ကုမ္ပဏီအမည် - Eleven-Nation Media Co., Ltd.

လုပ်ငန်း - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Publishing of Newspaper in Foreign Language (English) (အင်္ဂလိပ်ဘာသာဖြင့် သတင်းစာထုတ်ဝေခြင်းလုပ်ငန်း) ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၂၅-၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၉/၂၀၁၆ သို့တင်ပြခြင်း | ၂၉-၂-၂၀၁၆ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၉-၃-၂၀၁၆ | | |
| ၆ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၉-၂-၂၀၁၆ | ၁၈-၃-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၉-၂-၂၀၁၆ | ၁၇-၃-၂၀၁၆ | |
| | (ဂ) ပြန်ကြားရေးဝန်ကြီးဌာန | ၂၉-၂-၂၀၁၆ | ၁၀-၃-၂၀၁၆ | |
| ၇ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များ အရပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၂၂-၃-၂၀၁၆ | | |
| ၈ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၁၈-၃-၂၀၁၆ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၁၂/၂၀၁၆)MIC | (၂၇-၆-၂၀၁၆) | | |
| | စုစုပေါင်းကြာမြင့်ရက် ၁၂၂ ရက် | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | **Eleven-Nation Media Co., Ltd.** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် Publishing of Newspaper in Foreign Language (English) (အင်္ဂလိပ်ဘာသာဖြင့် သတင်းစာ ထုတ်ဝေခြင်းလုပ်ငန်း)** |
| တည်နေရာ | ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး (ခ) ရပ်ကွက်၊ တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ်(၂၂)ရှိ ၆ ထပ် အဆောက်အဦ၏ ၅ လွှာ ရှိ ဧရိယာ (၃,၁၁၂.၅) စတုရန်းပေ ( ၄၁' ၆ " × ၇၅ ') |
| စုစုပေါင်းမတည်ငွေရင်း | အမေရိကန် ဒေါ်လာ ၁.၁၀ သန်း |
| လုပ်ငန်းသက်တမ်း | ၃၀ နှစ် |
| အရင်းကြေကာလ | ၈ နှစ် ၁၁ လ |
| IRR | ၁၇.၅၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၂၀၅.၆၇ သန်း | ကျပ် ၆၈၃.၃၄ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၆၃၉.၀၁ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၇.၈ သန်း<br>တစ်နှစ်ဝင်ငွေကျပ် သိန်း(၄၈) ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၂၇) ဦး |
| ၈ | CSR (၂%) | - | ကျပ် ၁၄.၅၇ သန်း |
| ၉ | မြေငှားရမ်းခငွေ | - | - |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်း လုပ်သား (၂၈) ဦး<br>ပြည်ပ ၇ ဦး<br>အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | **ကျပ် ၂၀၈.၆၇ သန်း** | **ကျပ် ၁,၃၄၅.၉၂ သန်း** |
| | | ၁ း ၆ | |

## Eleven-Nation Media Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် Publishing of Newspaper in Foreign Language (English) (အင်္ဂလိပ်ဘာသာဖြင့်သတင်းစာထုတ်ဝေခြင်းလုပ်ငန်း) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

<table>
<tr><td>၁။</td><td>ကုမ္ပဏီအမည်/ ကမကထပြုသူ</td><td>- ဦးသိန်းမြင့် (မန်နေးဂျင်းဒါရိုက်တာ)</td></tr>
<tr><td>၂။</td><td>ရင်းနှီးမြှုပ်နှံမှုပုံစံ</td><td>- Eleven Media Group Co., Ltd. (မြန်မာနိုင်ငံ) ၅၁%<br>- Nation Multimedia Group Public Co., Ltd.(ထိုင်းနိုင်ငံ) ၄၉ %</td></tr>
<tr><td>၃။</td><td>အဆိုပြုလုပ်ငန်းအမျိုးအစား</td><td>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Publishing of Newspaper in Foreign Language (English) (အင်္ဂလိပ်ဘာသာဖြင့် သတင်းစာထုတ်ဝေခြင်းလုပ်ငန်း)</td></tr>
<tr><td>၄။</td><td>လုပ်ငန်းနေရာ</td><td>- ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး (ခ) ရပ်ကွက်၊ တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ်(၂၂)ရှိ ၆ ထပ် အဆောက်အဦး၏ ၅ လွှာ ရှိ ဧရိယာ (၃၁၁၂.၅) စတုရန်းပေ ( ၄၁' ၆ " × ၇၅ ')</td></tr>
<tr><td>၅။</td><td>စုစုပေါင်းမတည်ငွေရင်း<br>ငွေသား<br>စက်နှင့်စက်ပစ္စည်းကိရိယာများ<br>မော်တော်ကား<br>**စုစုပေါင်း**</td><td><table>
<tr><th>နိုင်ငံခြား(US$ သန်း)</th><th>မြန်မာ(US$ သန်း)</th><th>စုစုပေါင်း(US$ သန်း)</th></tr>
<tr><td>၀.၅၃၉</td><td>၀.၅၄၄</td><td>၁.၀၈၃</td></tr>
<tr><td>-</td><td>၀.၀၀၆</td><td>၀.၀၀၆</td></tr>
<tr><td>-</td><td>၀.၀၁၁</td><td>၀.၀၁၁</td></tr>
<tr><td>**၀.၅၃၉**</td><td>**၀.၅၆၁**</td><td>**၁.၁၀၀**</td></tr>
</table></td></tr>
<tr><td>၆။</td><td>တည်ဆောက်ရေးကာလ</td><td>- ၁ နှစ်</td></tr>
<tr><td>၇။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>- ၃၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ်)</td></tr>
<tr><td>၈။</td><td>မြေငှားစာချုပ်သက်တမ်း</td><td>- ၃ နှစ်</td></tr>
<tr><td>၉။</td><td>ဝန်ဆောင်မှု(၆နှစ်မြောက်)</td><td><table>
<tr><th>Type/ Specification</th><th>A/U</th><th>Unit Price (US$)</th><th>Qty (Copy)</th><th>Amount (US$)</th></tr>
<tr><td>Retail(20 % of total publish copy)</td><td>copy</td><td>၀.၃၉</td><td>၅၆၆,၀၉၃</td><td>၁၆၅,၅၂၈</td></tr>
<tr><td>Agent(50 % of total publish copy)</td><td>copy</td><td>၀.၂၇</td><td>၁,၄၁၅,၂၃၂</td><td>၂၈၆,၅၈၄</td></tr>
<tr><td>Bulks(15 % of total publish copy)</td><td>copy</td><td>၀.၂၇</td><td>၄၂၄,၅၇၀</td><td>၈၅,၉၇၅</td></tr>
<tr><td>Subscriptions (15% of total publish copy)</td><td>copy</td><td>၀.၂၇</td><td>၄၂၄,၅၇၀</td><td>၅၄,၁၃၃</td></tr>
<tr><td>Advertisements(3 pages per day)</td><td>page</td><td>၃,၂၂၁.၀၂</td><td>၉၃၆</td><td>၂,၂၆၁,၁၅၆</td></tr>
</table></td></tr>
<tr><td>၁၀။</td><td>ကုမ္ပဏီ၏(၆)နှစ်မြောက်ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ်</td><td>- US$ ၂.၈၅ သန်း<br>- US$ ၂.၆၅ သန်း<br>- US$ ၀.၂၀ သန်း</td></tr>
<tr><td>၁၂။</td><td>နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ်(၆)နှစ်မြောက်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်</td><td>- US$ ၀.၁၁ သန်း<br>- US$ ၀.၁၄ သန်း</td></tr>
<tr><td>၁၃။</td><td>ဝန်ထမ်းအင်အား</td><td>- ပြည်တွင်း ၂၈ ဦး (တစ်လလျှင် ပြည်တွင်းလုပ်သား တစ်ဦး၏ အနိမ့်ဆုံး လစာမှာ ၂၅၀,၀၀၀ ကျပ်၊ အမြင့်</td></tr>
</table>

| | | |
|---|---|---|
| | | ဆုံးလစာ မှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။)<br>- ပြည်ပ ၇ ဦး (တစ်လလျှင် ပြည်ပလုပ်သား တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၄၀၀ ၊ အမြင့်ဆုံး လစာမှာ US$ ၂,၀၀၀ ဖြစ်ပါသည်။) |
| ၁၄။ | အရင်းကြေကာလ | - ၈ နှစ် ၁၁ လ |
| ၁၅။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၇.၅၆ % |
| ၁၆။ | ငွေကြေးအထောက်အထား | - Eleven Media Group Co., Ltd.အမည်ဖြင့် ကမ္ဘောဇဘဏ် ကျောက်တံတားဘဏ်ခွဲ၌ (၁၃-၁၁-၂၀၁၅) နေ့စွဲရှိ လက်ကျန် ငွေ အမေရိကန်ဒေါ်လာ (၅၁၄,၀၄၇.၃၀) ရှိကြောင်းနှင့် Nation Multimedia Group Public Co., Ltd. အမည်ဖြင့် ထိုင်းနိုင်ငံ Bank of Ayudhya Public Company Limited (Thanon Bang Na Trat (Interlink Tower)) ၌ (၂၅-၈-၂၀၁၅) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၅၃၂,၆၂၅.၆၀ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၇။ | မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း စာချုပ်(မူကြမ်း) ပါအဓိကအချက်များ | - Eleven-Nation Media Company Limited နှင့်အခန်းပိုင်ရှင် ဦးသန်းထွဋ်အောင်တို့ ချုပ်ဆိုမည့် ရုံးခန်းငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(က) ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး (ခ) ရပ်ကွက်၊ တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ်(၂၂) ရှိ ၆ ထပ် အဆောက်အဦ၏ ၅ လွှာရှိ ဧရိယာ (၃၁၁၂.၅) စတုရန်းပေ (၂၈၉.၁၆ စတုရန်းမီတာ) (၄၁' ၆ "×၇၅')အား ငှားရမ်းဆောင်ရွက်မည်ဖြစ်ပါသည်။<br>(ခ) ရုံးခန်းငှားရမ်းသည့်သက်တမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ၃ နှစ် ဖြစ်ပြီး နှစ်ဦးနှစ်ဖက်သဘောတူညီမှုဖြင့်သက်တမ်းတိုးငှားရမ်းမည်ဖြစ်ပါသည်။<br>(ဂ) ငှားရမ်းခနှုန်းမှာ တစ်စတုရန်းမီတာလျှင် တစ်နှစ် အတွက် ကျပ် ၄၅,၆၄၉.၄၇ ဖြစ်ပါသည်။ |
| ၁၈။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSR လုပ်ငန်းများအတွက် ပထမနှစ်နှင့်ဒုတိယနှစ်တွင် အသားတင်အမြတ်ငွေ၏ ၂ %၊ တတိယနှစ်တွင် ၃%၊ စတုတ္ထနှစ်တွင် ၄% နှင့် ပဉ္စမမြောက်နှစ်မှစ၍ ရင်းနှီးမြှုပ်နှံမှုကာလ သက်တမ်းတစ်လျှောက် ၅% အထိ အသုံးပြုသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၉။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး စီမံချက်ရေးဆွဲ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၂၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - လျှပ်စစ်ဓါတ်အားကို ပုံမှန်ဓာတ်အားလိုင်းမှ သွယ်တန်းအသုံးပြုမည်ဖြစ်၍ မလုံလောက်ပါက ကိုယ်ပိုင် Generator တပ်ဆင်အသုံးပြုမည်ဖြစ်ပါသည်။ |
| ၂၁။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| ၂၂။ | အခြားတင်ပြချက်များ | - Eleven-Nation Media Co., Ltd. သည် (၃၀-၁၂-၂၀၁၃) ရက်နေ့တွင် ဖွဲ့စည်းမှတ်ပုံတင်ထားပြီး ကုမ္ပဏီမှတ်ပုံတင် လက်မှတ်၊ MOA ၊ AOA(မိတ္တူ) နှင့် ဒါရိုက်တာစာရင်းတို့ ကိုတင်ပြထားပါသည်။ |
| ၂၃။ | စိစစ်တင်ပြချက် | (က) ကုမ္ပဏီ၏ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှ တင်ပြချက်အရဖော်ပြထားခြင်းသာဖြစ်ပါသည်။<br>(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ မတ် ၂၁ ရက်နေ့ပါ အမိန့်ကြော်ငြာစာ အမှတ် ၂၆/၂၀၁၆ အရ ပြန်ကြားရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားစာရင်း တွင်ပါဝင်ပါသည်။<br>(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်နေ့ပါ အမိန့်ကြော်ငြာစာ အမှတ် ၅၁/၂၀၁၄ အရ အဆိုပြုလုပ်ငန်းသည် အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့် မပေးသောလုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိကြောင်းစိစစ်ရပါသည်။<br>(ဃ) ကုမ္ပဏီအနေဖြင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ စက်ပစ္စည်းကိရိယာများ တင်သွင်းရန် မရှိကြောင်းနှင့် ဝင်ငွေခွန်ကင်းလွတ်ခွင့် ၅ နှစ် ရရှိနိုင်မည်ဖြစ်ကြောင်းစိစစ်ရပါသည်။<br>(င) ကော်မရှင် ခွင့်ပြုမိန့်ရရှိပြီးပါက ပြန်ကြားရေးဝန်ကြီးဌာနသို့ သတင်းအေဂျင်စီလိုင်စင် လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၅(အ)/န-၀၁၆/၂၀၁၆(၃၃၉)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇွန် လ ၁၃ ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **Eleven-Nation Media Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Publishing of Newspaper in Foreign Language (English) (အင်္ဂလိပ်ဘာသာဖြင့် သတင်းစာ ထုတ်ဝေခြင်းလုပ်ငန်း) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာ ခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Eleven Media Group Co., Ltd. မှ ၅၁% နှင့် ထိုင်းနိုင်ငံ Nation Multimedia Group Public Co., Ltd. မှ ၄၉% ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Eleven-Nation Media Co., Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး (ခ) ရပ်ကွက်၊တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ်(၂၂)ရှိ ၆ ထပ်အဆောက်အဦ၏ ၅လွှာရှိ ဧရိယာ (၃,၁၁၂.၅) စတုရန်းပေ (၄၁'၆"×၇၅') ရှိ အခန်းအား ငှားရမ်း၍ Publishing of Newspaper in Foreign Language (English) (အင်္ဂလိပ်ဘာသာဖြင့် သတင်းစာ ထုတ်ဝေခြင်းလုပ်ငန်း) ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ အခန်းပိုင်ရှင်ဖြစ်သော ဦးသန်းထွဋ်အောင် နှင့် Eleven Nation Media Co., Ltd. တို့အကြား ချုပ်ဆိုမည့် ရုံးခန်းငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ အခန်းပိုင်ဆိုင်မှုအထောက်အထားများ၊ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် တာမွေမြို့နယ်၊ တာမွေကြီး (ခ) ရပ်ကွက်၊ တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ်(၂၂)၊ ၆ ထပ်အဆောက်အဦ၏ ၅ လွှာရှိ အခန်းဧရိယာ ၃,၁၁၂.၅ စတုရန်းပေ (၂၈၉.၁၆ စတုရန်းမီတာ)အား တစ်နှစ်လျှင် ကျပ် ၁၃၂ သိန်းနှုန်း (တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၄၅,၆၅၉.၄၇ နှုန်း) ဖြင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ (၃) နှစ် သက်တမ်းရှိ အခန်းငှားရမ်းခြင်းစာချုပ် (မူကြမ်း) အား ပူးတွဲ တင်ပြထားပါသည်။

၄။ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး (၃၀)နှစ် ဖြစ်ပါသည်။ ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး (၁)နှစ်အတွင်း လုပ်ငန်းစတင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၁၀ သန်း ဖြစ်ပြီး မြန်မာနိုင်ငံ Eleven Media Group Co., Ltd. မှ US$ ၀.၅၆၁ သန်း နှင့် ထိုင်းနိုင်ငံ Nation Multimedia Group Public Co., Ltd. မှ ထည့်ဝင်ငွေ US$ ၀.၅၃၉သန်း ထည့်ဝင်မည်ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၂၈) ဦး နှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်း(၇) ဦး၊ စုစုပေါင်း (၃၅) ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်

၂၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၄၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်တွင် ဝန်ဆောင်မှုပေးမည့်(စောင်ရေ)နှင့် ဝန်ဆောင်ခနှုန်း (US$) တို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | Type/ Specification | A/U | Unit Price | Qty | Amount(US$) |
|---|---|---|---|---|---|
| (က) | Retail (20 % of total publish copy) | Copy | ၀.၃၉ | ၅၆၆,၀၉၃ | ၁၆၅,၅၂၈ |
| (ခ) | Agent (50 % of total publish copy) | Copy | ၀.၂၇ | ၁,၄၁၅,၂၃၂ | ၂၈၆,၅၈၄ |
| (ဂ) | Bulks (15 % of total publish copy) | Copy | ၀.၂၇ | ၄၂၄,၅၇၀ | ၈၅,၉၇၅ |
| (ဃ) | Subscriptions (15% of total publish copy) | Copy | ၀.၂၇ | ၄၂၄,၅၇၀ | ၅၄,၁၃၃ |
| (c) | Advertisements (3 pages per day) | Page | ၃,၂၂၁.၀၂ | ၉၃၆ | ၂,၂၆၀,၁၅၆ |

၈။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်မှာအောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂.၈၅ |
| (ခ) | အသုံးစရိတ် | ၂.၆၅ |
| (ဂ) | အသားတင်အမြတ် | ၀.၂၀ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (၆နှစ်မြောက်) တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၁၁ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၁၄ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈)နှစ် နှင့် (၁၁)လ ဖြစ်၍ အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၇.၅၆ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည်နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား ၃၆ ဦးနှင့် ပြည်ပလုပ်သားအင်အား ၇ ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး (ခ) ရပ်ကွက်၊ ‌တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ်(၂၂)ရှိ ၆ ထပ်အဆောက်အဦ ၏ ၅ လွှာရှိ ဧရိယာ (၃,၁၁၂.၅) စတုရန်းပေ (၄၁'၆"×၇၅')၊ (၂၈၉.၁၆) စတုရန်းမီတာအား တစ်နှစ်လျှင် (US$ ၁၁,၀၀၀) နှုန်း (1sqft= ၃.၅၃ US$, 1sqm=၃၈.၀၄ US$)နှုန်းဖြင့် ကနဦး (၃) နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟုတင်ပြထား

ပါကြောင်း၊ ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၁/၂၀၁၆)၊ ဆုံးဖြတ်ချက် အပိုဒ်(၁၁၄) အရ Eleven-Nation Media Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**
အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR) အတွက် အသားတင်အမြတ်ငွေ၏ နှစ်အလိုက် ထည့်ဝင်သွားမည့် ရာခိုင်နှုန်းများအတိုင်း ထည့်ဝင်ဆောင်ရွက်သွားရန် အပါအဝင် ကတိကဝတ်များအတိုင်း လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန် အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination – IEE) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်းများ နှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) ကို ဆောင်ရွက်သွားရန်၊ အထက်ပါဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ လိုက်နာဆောင်ရွက်ရန်၊ သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းတင်ပြထားပါသည်။)**

(ဂ) **ပြန်ကြားရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**
Eleven-Nation Media Co., Ltd. မှ Publishing of Newspaper in Foreign

Language (English) (အင်္ဂလိပ်ဘာသာဖြင့် သတင်းစာ ထုတ်ဝေခြင်းလုပ်ငန်း) ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ **ပြန်ကြားရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း** သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

၁၁။ ငွေကြေးအထောက်အထားများအဖြစ် Eleven Media Group Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ် ကျောက်တံတားဘဏ်ခွဲ၌ (၁၃-၁၁-၂၀၁၅) နေ့စွဲရှိ လက်ကျန်ငွေ အမေရိကန်ဒေါ်လာ (၅၁၄,၀၄၇.၃၀) ရှိကြောင်းနှင့် Nation Multimedia Group Public Co., Ltd. အမည်ဖြင့် ထိုင်းနိုင်ငံ Bank of Ayudhya Public Company Limited (Thanon Bang Na Trat (Interlink Tower) ၌ (၂၅-၈-၂၀၁၅) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၅၃၂,၆၂၅.၆၀ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ပြီး၊ ဝန်ထမ်းများအား မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် အရေးအပေါ် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးခြင်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ ဝန်ထမ်းများအတွက် လစာဝင်ငွေခွန်ပေးဆောင်မည့်အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှု အစီအမံတို့ကို တင်ပြထားပြီး လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility - CSR) အတွက် ပထမနှစ်နှင့် ဒုတိယနှစ်တွင် အသားတင်အမြတ်၏ ၂ %၊ တတိယနှစ်တွင် ၃ %၊ စတုတ္ထနှစ်တွင် ၄ %၊ ပဥ္စမနှစ်မှ နှစ် ၃၀ အတွင်းတွင် ၅ % ထည့်ဝင်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ ၂၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၉/၂၀၁၆)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ (က) အဆိုပြုလုပ်ငန်းသည်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၁ ရက်နေ့ပါ အမိန့်ကြော်ငြာစာ အမှတ် ၂၆/၂၀၁၆ အရ ပြန်ကြားရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားစာရင်းတွင်ပါဝင်ပါသည်။

(ခ) Eleven-Nation Media Co., Ltd. မှထုတ်ဝေမည့် သတင်းစာအတွက် ပုံနှိပ်လုပ်ငန်းများကို Eleven Media Group မှ သီးခြားပုံနှိပ်စက်နှင့် အခြားသင့်လျော်သော ပြင်ပပုံနှိပ်စာများတွင်အပ်နှံဆောင်ရွက်မည်ကြောင်းနှင့် ကုမ္ပဏီအနေဖြင့် ပုံနှိပ်လုပ်ငန်းများကို ဆောင်ရွက်မည်မဟုတ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်သောရုံးသုံးပစ္စည်းများ၊ ပရိဘောဂများအား ပြည်တွင်းမှ ဝယ်ယူအသုံးပြုမည်ဖြစ်ကြောင်း၊ ပြည်ပမှ စက်ပစ္စည်းကိရိယာများ တင်သွင်းရန်မရှိကြောင်း၊ ကုမ္ပဏီအနေဖြင့် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ်သာ ခံစားနိုင်မည်ဖြစ်ကြောင်း စိစစ်တင်ပြ အပ်ပါသည်။

(ဃ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက ပြန်ကြားရေးဝန်ကြီးဌာနသို့ သတင်းအေဂျင်စီလိုင်စင်လျှောက်ထားရန်လိုအပ်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ Eleven-Nation Media Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Publishing of Newspaper in Foreign Language (English) (အင်္ဂလိပ်ဘာသာဖြင့် သတင်းစာထုတ်ဝေခြင်းလုပ်ငန်း) ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ-က



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၉. ၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၅(အ)/ န-၀၁၆/၂၀၁၆(၁၀၄)

၁။ မြန်မာနိုင်ငံ Eleven Media Group Co., Ltd. မှ ၅၁%နှင့် ထိုင်းနိုင်ငံ Nation Multimedia Group Public Co., Ltd. မှ ၄၉%ဖြင့် မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Eleven-Nation Media Co., Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး(ခ)ရပ်ကွက်၊ တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ်(၂၂)ရှိ ၆ ထပ်အဆောက်အဦ၏ ၅ လွှာရှိ ဧရိယာ(၃၁၁၂. ၅) စတုရန်းပေ (၄၁'၆"×၇၅')အား ငှားရမ်း၍ Newspaper Published in English Language (အင်္ဂလိပ်ဘာသာဖြင့် သတင်းစာထုတ်ဝေခြင်းလုပ်ငန်း)ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၃၆)ဦးနှင့်ပြည်ပလုပ်သားအင်အား(၇)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး(ခ)ရပ်ကွက်၊ တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ်(၂၂)ရှိ ၆ ထပ်အဆောက်အဦ၏ ၅ လွှာရှိ ဧရိယာ(၃၁၁၂. ၅)စတုရန်းပေ၊ (၄၁'၆"×၇၅')၊ (၂၈၉. ၁၆)စတုရန်းမီတာအား တစ်နှစ်လျှင် (US$ 11000)နှုန်း (1sqft=3.53 US$, 1sqm=38.04 US$) နှုန်းဖြင့် ကနဦး( ၃ )နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၁. ၃. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၁၄)အရ Eleven-Nation Media Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

- ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားရေးရာဝန်ကြီး
- ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
- တာမွေမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
- Eleven-Nation Media Co., Ltd.
- လက်ခံစာတွဲ
- မျှောစာတွဲ

နောက်ဆက်တွဲ-ခ



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁( ၈၇ /၁၆ )
ရက် စွဲ၊ ၂၀၁၆ခုနှစ် မတ် လ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Eleven-Nation Media Co.,Ltd မှ Newspaper Published in Foreign Language (အင်္ဂလိပ်ဘာသာဖြင့်သတင်းစာထုတ်ဝေခြင်းလုပ်ငန်း)ကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရကာ-၅(အ)/ န-၀၁၆/ ၂၀၁၆(၀၈၉)

၁။ မြန်မာနိုင်ငံ Eleven Media Group Co.,Ltd မှ ၅၁%နှင့်ထိုင်းနိုင်ငံ Nation Multimedia Group Public Co.,Ltd မှ၄၉%ဖြင့် မြန်မာနိုင်ငံတွင်ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Eleven-Nation Media Co.,Ltd တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး(ခ)ရပ်ကွက်၊ တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ်(၂၂)၏ ၅လွှာရှိ ဧရိယာ ၃၁၁.၂၅ စတုရန်းပေ (၄၁' ၆" × ၇၅')အားငှားရမ်း၍ Newspaper Published in Foreign Language (အင်္ဂလိပ်ဘာသာဖြင့်သတင်းစာထုတ်ဝေခြင်းလုပ်ငန်း)အားဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၃၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊လုပ်ငန်းမှရရှိလာသောအသားတင်အမြတ်ငွေ(၂%)ကိုပထမနှစ်နှင့်ဒုတိယနှစ်တွင်လည်းကောင်း၊ တတိယနှစ်တွင်(၃%)အားလည်းကောင်း၊ စတုတ္ထနှစ်တွင်(၄%)အား လည်းကောင်း၊ ပဉ္စမနှစ်မှနှစ်(၃၀)အတွင်း(၅%)အားလည်းကောင်း၊ လူမှုရေးအကျိုးပြုလုပ်ငန်းများ

တာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility – CSR )လုပ်ငန်းများတွင် ထည့်ဝင်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ရုံးခန်းတည်နေရာ ပတ်ဝန်းကျင်တွင်သန့်ရှင်းမှုရှိစေရန်နှင့်အမှိုက်များကို စနစ်တကျစွန့်ပစ်နိုင်ရန် အမှိုက်ပုံးများထားရှိပေးခြင်း၊ အမှိုက်များစွန့်ပစ်ရန်အတွက် သက်ဆိုင်ရာစည်ပင်သာယာရေးကော်မတီမှချမှတ်ထားသောစည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ လမ်းညွှန်ချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Eleven-Nation Media Co.,Ltd မှ အင်္ဂလိပ်ဘာသာဖြင့်သတင်းစာထုတ်ဝေခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စက္ကူဖြတ်စညှပ်စများနှင့်စွန့်ပစ်အမှိုက်များကြောင့် ပတ်ဝန်းကျင်မြေထုညစ်ညမ်းခြင်း၊ ပုံနှိပ်မင်များအသုံးပြု၍ ဆောင်ရွက်ခြင်းကြောင့်ပါဝင်သည့် ဓာတုဗေဒပစ္စည်းများသည် ဝန်ထမ်းများ၏ကျန်းမာရေးကိုထိခိုက်စေခြင်းနှင့်ထွက်ရှိလာမည့် ဓာတုဗေဒစွန့်ပစ်ရေဆိုးများကြောင့် ပတ်ဝန်းကျင်ရေထုနှင့်မြေထုညစ်ညမ်းခြင်းနှင့် အဆိပ်ဖြစ်စေခြင်း၊ သယ်ယူပို့ဆောင်ရေးအသုံးပြုမည့်ယာဉ်များနှင့်ပုံနှိပ်စက်များ၏ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ရှိပြည်သူလူထုအား အနှောက်အယှက်ဖြစ်စေခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Eleven-Nation Media Co.,Ltd မှ Newspaper Published in Foreign Language (အင်္ဂလိပ်ဘာသာဖြင့်သတင်းစာထုတ်ဝေခြင်းလုပ်ငန်း)ကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR)အတွက် အသားတင်အမြတ်ငွေ၏နှစ်အလိုက်ထည့်ဝင်သွားမည့်ရာခိုင်နှုန်းများအတိုင်း ထည့်ဝင်ဆောင်ရွက်သွား

ရန်အပါအဝင် ကတိကဝတ်များအတိုင်း လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental Examination –IEE)ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ထုံးလုပ်နည်းများနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ကိုဆောင်ရွက်သွားရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ

M4-261
17.3.016

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပြန်ကြားရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၃-၄(၉/၂၀၁၆) ၊ ၂၂၈
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၅(အ)/န-၀၁၆/၂၀၁၆(၀၀၅)

၁။ မြန်မာနိုင်ငံ Eleven Media Group Co.,Ltd. မှ ၅၁% နှင့် ထိုင်းနိုင်ငံ Nation Multimedia Group Public Co.,Ltd. မှ ၄၉% ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Eleven-Nation Media Co.,Ltd. တည်ထောင်၍ Newspaper Published in English Language (အင်္ဂလိပ်ဘာသာဖြင့် သတင်းစာ ထုတ်ဝေခြင်းလုပ်ငန်း)ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ Eleven Media Group Co.,Ltd. မှ ၅၁% နှင့် ထိုင်းနိုင်ငံ Nation Multimedia Group Public Co.,Ltd. မှ ၄၉% ထည့်ဝင်ကာ ဆောင်ရွက်မည်ဆိုပါက ပြန်ကြားရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါ သည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( တင့်ဆွေ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

Eleven Media Group Co.,Ltd.

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Eleven-Nation Media Co., Ltd. | Eleven Media Group Co., Ltd. (Myanmar) Representative By | |
| | | (၁) ဦးသိန်းမြင့် မန်နေးဂျင်းဒါရိုက်တာ မြန်မာ ၁၂/အလန(နိုင်) ၀၁၃၇၆၉ | အမှတ်-၆၄၊ မြေညီထပ်၊ ဆင်ရေကန်လမ်း၊ ဆင်မင်းရပ်ကွက်၊ အလုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | Nation Multimedia Group Public Co., Ltd. (Australia) | |
| | | (၂) Mr. Pana Janviroj Director Thai AA2089474 | 865 Sukhumvit Road 101/1, Bangkok 10260, Thailand. |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉- ၂၅၀၆၈၄၈၃၃

၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - အမှတ်(၂၂) ၊ ၅ လွှာ၊ တောင်မြင်းပြိုင်ကွင်းလမ်း၊တာမွေကြီး(ခ)ရပ်ကွက်၊တာမွေမြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးသိန်းမြင့် (မန်နေးဂျင်းဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Newspaper Published in Foreign Language (အင်္ဂလိပ်ဘာသာဖြင့် သတင်းစာထုတ်ဝေခြင်းလုပ်ငန်း)

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - ၇၅၅ အက်ဖ်စီ/၂၀၁၃-၂၀၁၄(၃၀-၁၂-၂၀၁၃)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၂၉-၁၂-၂၀၁၈

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

# INVESTMENT PROPOSAL

FOR

PUBLISHING OF NEWSPAPER
IN FOREIGN LANGUAGE (ENGLISH)

UNDER FOREIGN INVESTMENT LAW

IN

THE REPUBLIC OF THE UNION OF MYANMAR

"ELEVEN-NATION MEDIA CO., LTD."

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း
နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ

အင်္ဂလိပ်ဘာသာဖြင့် သတင်းစာထုတ်ဝေခြင်း လုပ်ငန်း
ဆောင်ရွက်ရန်အတွက်

ရင်းနှီးမြှုပ်နှံလိုသူ၏
လုပ်ငန်းအဆိုပြုချက်

"အီလဲဗဲန် နေးရှဲန် မီဒီယာ ကုမ္ပဏီ လီမိတက်"

## မာတိကာ

၂၂။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်

၂၃။ အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ

၂၄။ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်

၂၅။ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း

၂၆။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်

၂၇။ ရုံးခန်းငှားရမ်းခြင်းအတွက် စာချုပ်မူကြမ်း

၂၈။ ငှားရမ်းမည့် ရုံးခန်းတည်ရှိရာမြေ၏ဂရန်များ

၂၉။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အအုံ) ၏ အဆောက်အအုံ ပြီးစီးကြောင်း သက်သေခံလက်မှတ် (မိတ္တူ)

၃၀။ ငှားရမ်းမည့် ရုံးခန်း၏ အဆောက်အဦ ဓါတ်ပုံ နှင့် Floor Plan

၃၁။ ထုတ်ဝေမည့် သတင်းစာနမူနာပုံ

၃၂။ ဝယ်ယူပြီးပစ္စည်းများ၏ အထောက်အထားများ

၃၃။ Memorandum of Understanding (MOU) (မိတ္တူ)

၃၄။ နိုင်ငံသားစိစစ်ရေးကဒ် (မိတ္တူ) နှင့် နိုင်ငံကူးလက်မှတ် (မိတ္တူ)

၃၅။ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်များ (Eleven Media Group Co., Ltd. နှင့် Nation Multimedia Group Public Co., Ltd. ) (မိတ္တူများ)

၃၆။ အစည်းအဝေးဆုံးဖြတ်ချက်များ(Eleven Media Group Co., Ltd. နှင့် Nation Multimedia Group Public Co., Ltd. ) (မိတ္တူများ)

၃၇။ ငွေကြေးအထောက်အထားများ (Eleven Media Group Co., Ltd. နှင့် Nation Multimedia Group Public Co., Ltd. ) (မိတ္တူများ)

၃၈။ Eleven-Nation Media Co., Ltd. ၏ မှတ်ပုံတင်လက်မှတ် နှင့် Form of Permit (Form-1) (မိတ္တူ)

၃၉။ Eleven-Nation Media Co., Ltd. ၏ ပုံစံ (၆) နှင့် ပုံစံ (၂၆) (မိတ္တူ)

၄၀။ Eleven-Nation Media Co., Ltd. ၏ သတ်မှတ်မတည်ငွေရင်းလျှော့ချခြင်းအတွက် CRD (မိတ္တူ)

၄၁။ Credit Advice and Remittance Certificate for Initial Capital (MICB Bank) (မိတ္တူ)

၄၂။ ဘဏ္ဍာရေးနှစ်ချုပ်စာရင်း (၂၀၁၄ - ၂၀၁၅) (မိတ္တူ)

၄၃။ သင်းဖွဲ့ မှတ်တမ်း သင်းဖွဲ့ စည်းမျဉ်း

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၆ ခုနှစ်၊ မတ်လ ( ၁၈ )ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ညွှန်ကြားချက်များအရ ပြင်ဆင်ထားသော အဆိုပြုလွှာအား ပြန်လည်တင်ပြခြင်း**

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉-၃- ၂၀၁၆) ရက်စွဲပါ စာအမှတ် ၊ ရက- ၅(အ)/ န-၀၁၆/၂၀၁၆ (၁၃၈)။

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **"အီလဲဗဲန် နေးရှဲန် မီဒီယာ ကုမ္ပဏီ လီမိတက်"** **"ELEVEN-NATION MEDIA CO., LTD."** သည် ၂၀၁၃-ခုနှစ်၊ ဒီဇင်ဘာလ (၃၀) ရက်နေ့တွင် မြန်မာနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်ထားသော "ELEVEN MEDIA GROUP CO., LTD." မှ (၅၁%) နှင့် ထိုင်းနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်ထားသော "NATION MULTIMEDIA GROUP PUBLIC CO., LTD." မှ (၄၉%) တို့ပါဝင်ခြင်းဖြင့် **"အင်္ဂလိပ် ဘာသာဖြင့် သတင်းစာထုတ်ဝေခြင်း လုပ်ငန်း"** ကို ဆောင်ရွက်ရန် ဖွဲ့စည်းတည်ထောင်ထားသော ဖက်စပ်ကုမ္ပဏီ ဖြစ်ပါသည်။ ကျွန်တော်တို့ ကုမ္ပဏီသည် ဖော်ပြပါလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ ပေးပို့တင်ပြ လျှောက်ထားခြင်း ဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းချက်ပါစာအရ ညွှန်ကြားထားသောအောက်ဖော်ပြပါ အချက်အလက်များအားပြင်ဆင်ပူးတွဲပြီးဖြစ်ပါသဖြင့် အဆိုပြုလွှာအား ပြန်လည်ပေးပို့တင်ပြအပ်ပါသည်။

(က) အင်္ဂလိပ်ဘာသာ လုပ်ငန်းအမျိုးအစားအား **"Newspaper Published in Foreign Language"** မှ **"Publishing of Newspaper in Foreign Language (English)"** ဟု ပြင်ဆင်ထားပါသည်။

(ခ) ပြည်တွင်းဝယ်ယူထားသည့် စက်ပစ္စည်းစာရင်းအား တင်ပြရန် ညွှန်ကြားထားသော်လည်း လုပ်ဆောင်မည့် လုပ်ငန်းသဘောသဘာဝအားဖြင့် စက်ပစ္စည်းဝယ်ယူရန် မလိုအပ်ပါသဖြင့် ဝယ်ယူထားခြင်းမရှိပါ။ ဝယ်ယူပြီး နှင့် ဝယ်ယူရန်ရှိသော ပရိဘောဂ နှင့် မော်တော်ယာဉ်စာရင်းများအား အဆိုပြုလွှာတွင် ပူးတွဲဖော်ပြပြီး ဖြစ်ပါသည်။

(ဂ) ရုံးခန်းငှားရမ်းအသုံးပြုမည့် အဆောက်အအုံ တည်ရှိရာ မြေပိုင်ဆိုင်ခြင်း အထောက်အထားများ ဖြစ်သည့်မြေငှားဂရန်များအား အဆိုပြုလွှာတင်ပြစဉ်တွင်ပင် ပူးတွဲဖော်ပြထားပြီး ဖြစ်ပါသည်။ ဖော်ပြပါ အဆောက်အအုံ ပိုင်ဆိုင်ခြင်းအထောက်အထားအတွက် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အအုံ) ၏ အဆောက်အအုံပြီးစီးကြောင်း သက်သေခံလက်မှတ် (မိတ္တူ) အားလည်း အဆိုပြုလွှာတွင် ပူးတွဲပေးပို့တင်ပြအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ကျွန်တော်တို့ကုမ္ပဏီနှင့်အတူ ပူးပေါင်းဆောင်ရွက်ပေးခြင်းကို ကျေးဇူးအထူးပင်တင်ရှိပြီး ကျွန်တော်တို့၏ **"အီလဲဗဲန် နေးရှင်း မီဒီယာ ကုမ္ပဏီ လီမိတက်"** "ELEVEN-NATION MEDIA CO., LTD." ၏ ဆောင်ရွက်မှုလုပ်ငန်းများဆိုင်ရာ ဆောင်ရွက်ခွင့် Permit ကို ဆောလျှင်စွာခွင့်ပြုပေးပါရန် မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

(သိန်းမြင့်)
**အဆိုပြုဒါရိုက်တာ**
**အီလဲဗဲန် နေးရှင်း မီဒီယာ ကုမ္ပဏီ လီမိတက်**

To

Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No. (1), Thitsar Road, Yankin Township, Yangon Region.

Dated : 22-February-2016.

Subject: **Submitting Investment Proposal to Myanmar Investment Commission**

Dear Sir,

Regarding about above subject matter, our company, "**ELEVEN-NATION MEDIA CO., LTD.**" is registered on (30th) day of the month December, 2013 as a joint venture company which is contributed by (51%) from ELEVEN MEDIA GROUP CO., LTD. (incorporated in the Republic of the Union of Myanmar) and (49%) from NATION MULTIMEDIA GROUP PUBLIC CO., LTD. (incorporated in Thailand) to do the business activity of **"Publishing of Newspaper in Foreign Language (English)"** in the Republic of the Union of Myanmar. Our "**ELEVEN- NATION MEDIA CO., LTD.**" is situated at No. 22, 5th Floor, South Horse Racing Road, Tamwegyi (B) Block, Tamwe Township, Yangon Region, the Republic of the Union of Myanmar with the floor area of (3112.5 sqft) (41' 6" x 75') for the above mentioned business activity. So, we would like to request a kind permission from Myanmar Investment Commission for doing subjected business in Myanmar under the Foreign Investment Law.

Yours' truly,
With Regards,

**(THEIN MYINT)**
Proposed Director
**ELEVEN- NATION MEDIA CO., LTD.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ(၂၂)ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ "**အီလဲဗဲန် နေးရှဲန် မီဒီယာ ကုမ္ပဏီ လီမိတက်**" "ELEVEN-NATION MEDIA CO., LTD." သည် ၂၀၁၃-ခုနှစ်၊ ဒီဇင်ဘာလ (၃၀) ရက်နေ့တွင် "**အင်္ဂလိပ်ဘာသာဖြင့် သတင်းစာထုတ်ဝေခြင်း လုပ်ငန်း (Publishing of Newspaper in Foreign Language (English))**" ကို ဆောင်ရွက်ရန် မြန်မာနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်ထားသော "ELEVEN MEDIA GROUP CO., LTD." မှ (၅၁%) နှင့် ထိုင်းနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်ထားသော "NATION MULTIMEDIA GROUP PUBLIC CO., LTD." မှ (၄၉%) တို့ပါဝင်ခြင်းဖြင့် ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပါသည်။ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး (ခ) ရပ်ကွက်၊ တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ် (၂၂)၏ (၅)လွှာရှိ (၃၁၁၂.၅) စတုရန်းပေ (၄၁ ပေ ၆ လက်မ x ၇၅ ပေ) ကျယ်ဝန်းသော အခန်းတွင် အထက်ဖော်ပြပါ လုပ်ငန်းအားလုပ်ကိုင်ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ ပေးပို့တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

**(သိန်းမြင့်)**
**အဆိုပြုဒါရိုက်တာ**
**အီလဲဗဲန် နေးရှဲန် မီဒီယာ ကုမ္ပဏီ လီမိတက်**

To

Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No. (1), Thitsar Road, Yankin Township, Yangon Region.

Dated: 22 – February -2016

Subject: **<u>Submitting for Tax Exemption and Reliefs to Myanmar Investment Commission according to Section (27)</u>**

Dear Sir,

1. Regarding about above subject matter, our company, "**ELEVEN-NATION MEDIA CO., LTD.**" is situated at No. 22, 5th Floor, South Horse Racing Road, Tamwegyi (B) Block, Tamwe Township, Yangon Region, the Republic of the Union of Myanmar with the floor area of (3112.5 sqft) (41' 6" x 75'). We would like to request a kind permission from Myanmar Investment Commission for doing the business activity of **"Publishing of Newspaper in Foreign Language (English)"** in Myanmar under the Foreign Investment Law.

2. Our company defined the Authorized Capital of USD (1,300,000.00) and the initial investment amount is USD (1,100,000.00). This initial investment amount includes cash investment and in kind investment such as furniture and fixtures and motor vehicles which are already purchased. We will buy other required assets from cash investment. We will request the permission again if we need to invest more machines in the future.

3. We will hire the experts from local and foreign for our business activities of **"Publishing of Newspaper in Foreign Language (English)"**.

4. In order to get revenue for the Republic of Union of Myanmar, to provide job opportunities for Myanmar citizens, and to increase foreign investment, we kindly request to get the approval from Myanmar Investment Commission and we also request for tax incentive and relief according to section (27) of the Foreign Investment Law.

5. Moreover, we would like to request for tax exemption to Ministry of Finance for income tax from income which will get from the proposed business for the first (5) years.

6. We attached the following documents with the proposal :

   1) The proposal by proposed director for doing foreign investment in the Republic of the Union of Myanmar
   2) Evidence of businesses and financial standing
   3) Company Memorandum of Association and Articles of Association
   4) Graph for calculation of national revenue
   5) Table for Financial Profit for Government

Yours' truly,
With Regards,

Thein Myint

**(THEIN MYINT)**
Proposed Director
**ELEVEN- NATION MEDIA CO., LTD.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ (၂၂) ရက်

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၂၇တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ **"အီလဲဗဲန် နေးရှဲန် မီဒီယာ ကုမ္ပဏီ လီမိတက်"** "ELEVEN-NATION MEDIA CO., LTD." သည် ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး (ခ) ရပ်ကွက်၊ တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ် (၂၂)၏ (၅)လွှာရှိ (၃၁၁၂.၅) စတုရန်းပေ (၄၁ ပေ ၆ လက်မ x ၇၅ ပေ) ကျယ်ဝန်းသော အခန်းတွင် **"အင်္ဂလိပ်ဘာသာဖြင့် သတင်းစာထုတ်ဝေခြင်း လုပ်ငန်း (Publishing of Newspaper in Foreign Language (English))"** ကို ဆောင်ရွက်ရန် ဖက်စပ်လုပ်ငန်းဆောင်ရွက်ခွင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ ပေးပို့တင်ပြ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ကုမ္ပဏီသည် အထက်ဖော်ပြပါလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ရန်အတွက် မတည်ရင်းနှီးငွေကို အမေရိကန်ဒေါ်လာ (၁,၃၀၀,၀၀၀.၀၀) ထားရှိကာ ကနဦးရင်းနှီးမြှုပ်နှံခြင်း အမေရိကန်ဒေါ်လာ (၁,၁၀၀,၀၀၀.၀၀) တွင် ဝယ်ယူပြီး ပရိဘောဂတန်ဖိုး နှင့် မော်တော်ယာဉ်တန်ဖိုး အပြင် ငွေကြေးအားဖြင့် ရင်းနှီးမြှုပ်နှံမှုများလည်း ပါဝင်ပါသည်။ ထပ်မံလိုအပ်သော ပစ္စည်းများအားလည်း ရင်းနှီးမြှုပ်နှံသောငွေမှ ဝယ်ယူသွားမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံရန်အတွက် ပစ္စည်းများထပ်မံ၍လိုအပ်ပါက လည်း ခွင့်ပြုမိန့် ထပ်မံတောင်းခံ၍ တင်သွင်းမည် ဖြစ်ပါသည်။

၃။ ကျွန်တော်တို့လုပ်ငန်းအတွက် လိုအပ်သောဝန်ထမ်းများကို ပြည်တွင်း/ပြည်ပရှိ အတတ်ပညာရှင်များအား ခန့်အပ်ကာ ဆောင်ရွက်လုပ်ကိုင်သွားမည် ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် ရသင့်ရထိုက်သောအခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု တိုးတက်စေရန်လည်းကောင်း ကျွန်တော်တို့ကုမ္ပဏီ၏ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားခြင်းကိုလက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၂၇)တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ပေးအပ်ပါရန် ရိုသေလေးစားစွာ ဖြင့် လျှောက်ထားအပ်ပါသည်။

၅။ ထို့အပြင် အဆိုပြုတင်ပြသောလုပ်ငန်းမှ ရရှိလာသော ပထမ(၅)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် နှင့် ဝင်ငွေခွန်တို့ကို သက်သာခွင့်ပြုရန်အတွက် ဘဏ္ဍာရေးဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

၆။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်များကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်၊

(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ

(၃) ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ

(၄) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ

(၅) နိုင်ငံတော်မှရရှိမည့်ဘဏ္ဍာရေးအကျိုးအမြတ်တွက်ချက်မှုဇယား

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

**(သိန်းမြင့်)**

**အဆိုပြုဒါရိုက်တာ**

**အီလဲပဲန် နေးရှန် မီဒီယာ ကုမ္ပဏီ လီမိတက်**

To

Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
No. (1), Thitsar Road, Yankin Township, Yangon Region.

Dated: 22 – February -2016

Subject: **Undertaking for business progress to Myanmar Investment Commission**

Dear Sir,

1. Regarding about above subject matter, our company, "**ELEVEN-NATION MEDIA CO., LTD.**" is situated at No. 22, 5th Floor, South Horse Racing Road, Tamwegyi (B) Block, Tamwe Township, Yangon Region, the Republic of the Union of Myanmar with the floor area of (3112.5 sqft) (41' 6" x 75'). We would like to request a kind permission from Myanmar Investment Commission for doing the business activity of **"Publishing of Newspaper in Foreign Language (English)"** in Myanmar under the Foreign Investment Law.

   (a) Our company is a joint venture company which contributed by (51%) from ELEVEN MEDIA GROUP CO., LTD. (incorporated in the Republic of the Union of Myanmar) and (49%) from NATION MULTIMEDIA GROUP PUBLIC CO., LTD. (incorporated in Thailand).

   (b) We undertake that our business will support in building up of National Economy.

   (c) We will aware of environment issues, fire safety and will plan to prevent emergency situation and natural disaster. We will also arrange to control the pollution according to the guidance of rules and regulations in the Republic of the Union of Myanmar.

   (d) "**ELEVEN-NATION MEDIA CO., LTD.**" can guarantee that the machines we import are in good condition.

   (e) We undertake all foreign currency transactions related with this proposed business will do in either MFTB or MICB or any private banks which have the authorized dealer license.

(f) We will follow every rules and regulation for money transactions and exchange system which was set by government for using expenses and salaries of employees.

2. We, "**ELEVEN-NATION MEDIA CO., LTD.**" would like to undertake to follow all laws, rules and regulations, procedures, orders and instructions enforced by government of the Republic of the Union of Myanmar.

Yours' truly,
With Regards,

**(THEIN MYINT)**
Proposed Director
**ELEVEN- NATION MEDIA CO., LTD.**

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ (၂၂) ရက်

အကြောင်းအရာ။ **။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။**

လေးစားရပါသောလူကြီးမင်းခင်ဗျား ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ **"အီလဲဗဲန် နေးရှဲန် မီဒီယာ ကုမ္ပဏီ လီမိတက်"** "ELEVEN-NATION MEDIA CO., LTD." သည် ရန်ကုန်တိုင်းဒေသကြီး၊ တာမွေမြို့နယ်၊ တာမွေကြီး (ခ) ရပ်ကွက်၊ တောင်မြင်းပြိုင်ကွင်းလမ်း၊ အမှတ် (၂၂)၏ (၅)လွှာရှိ (၃၁၁၂.၅) စတုရန်းပေ (၄၁ ပေ ၆ လက်မ x ၇၅ ပေ) ကျယ်ဝန်းသော အခန်းတွင် **"အင်္ဂလိပ်ဘာသာဖြင့် သတင်းစာထုတ်ဝေခြင်း လုပ်ငန်း (Publishing of Newspaper in Foreign Language (English))"** ကို ဆောင်ရွက်ရန် ဖက်စပ်လုပ်ငန်းဆောင်ရွက်ခွင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ ပေးပို့တင်ပြ လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်ထားသော "ELEVEN MEDIA GROUP CO., LTD." မှ (၅၁%) နှင့် ထိုင်းနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်ထားသော "NATION MULTIMEDIA GROUP PUBLIC CO., LTD." မှ (၄၉%) တို့ပါဝင်ခြင်းဖြင့် ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပါသည်။

(ခ) ဤလုပ်ငန်းသည် နိုင်ငံတော်အတွက် စီးပွားရေးလုပ်ငန်းလုပ်ဆောင်သော အခြေခံစီးပွားရေး လုပ်ငန်းအဆောက်အဦကို အထောက်အကူပြုသောလုပ်ငန်းဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(ဂ) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုအတွက်လည်း အစီအမံများပြုလုပ်သွားမည့်အပြင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ဥပဒေများ၊ နည်းဥပဒေ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဃ) "**အီလဲဗဲန် နေးရှဲန် မီဒီယာ ကုမ္ပဏီ လီမိတက်**" "ELEVEN-NATION MEDIA CO., LTD." အနေဖြင့် ပြည်ပမှ ဝယ်ယူတင်သွင်းမည့် စက်ပစ္စည်းများရှိခဲ့ပါကလည်း ကောင်းမွန်သော အရည်အသွေးရှိသော ပစ္စည်းများကိုသာ တင်သွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(င) ဤအဆိုပြုလုပ်ငန်းများ ဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့်ရရှိသောအခကြေးငွေများကို "မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်" (MFTB) သို့မဟုတ် "မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်" (MICB) သို့မဟုတ် "နိုင်ငံခြားငွေများကို တရားဝင်ရောင်းဝယ်ခွင့်ပြုမိန့် ရရှိထားသော ပုဂ္ဂလိကဘဏ်များ" ၏ ငွေစာရင်းသို့ မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(စ) ယင်းသို့ပေးသွင်းထားရှိသည့် နိုင်ငံခြားငွေများကို နိုင်ငံတော်မှသတ်မှတ်ခွင့်ပြုထားသည့် နိုင်ငံခြားငွေလဲလှယ်ခြင်းဥပဒေ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများနှင့် အခါအားလျော်စွာ ပြဋ္ဌာန်းလာသော ညွှန်ကြားချက်များအတိုင်းလဲလှယ်ပြီး၊ လုပ်ငန်းလိုအပ်ချက်နှင့် မိမိလုပ်ငန်းအတွက် အလုပ်သမားများ၏ လုပ်အားခများအား ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ထို့အပြင် ကျွန်တော်များ "**အီလဲဗဲန် နေးရှဲန် မီဒီယာ ကုမ္ပဏီ လီမိတက်**" "ELEVEN-NATION MEDIA CO., LTD." အနေဖြင့် နိုင်ငံတော်အစိုးရမှပြဋ္ဌာန်းထားသော ဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းဥပဒေများ၊ အမိန့်များ၊ ညွှန်ကြားချက်များ နှင့် အခါအားလျော်စွာ ပြဋ္ဌာန်းထားသောအမိန့်များ၊ စည်းမျဉ်းစည်းကမ်းများ၊ ညွှန်ကြားချက်များကိုလည်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ထပ်ဆင့် ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

**(သိန်းမြင့်)**
**အဆိုပြုဒါရိုက်တာ**
**အီလဲဗဲန် နေးရှဲန် မီဒီယာ ကုမ္ပဏီ လီမိတက်**

